## Ngwe Yi Palè Sugar Co., Ltd. (ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်) မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်း ဆောင်ရွက်မှု မှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၁၅-၁၀-၂၀၁၈ | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန (One Stop Service)<br>- ရှမ်းပြည်နယ်အစိုးရအဖွဲ့ | <br><br><br>၁၈-၁၀-၂၀၁၈<br><br>၁၈-၁၀-၂၀၁၈ | <br><br><br>၁-၁၁-၂၀၁၈<br><br>၆-၁၁-၂၀၁၈ | |
| ၃ | အဆိုပြုချက်အပေါ်ပြင်ဆင်တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း | ၆-၁၁-၂၀၁၈ | ၁၂-၁၁-၂၀၁၈ | PAT ဆုံးဖြတ်ချက် အကြောင်းကြားပါသည်။ |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၃၃/၂၀၁၈ (၂၂-၁၀-၂၀၁၈) | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၉/၂၀၁၈ (၁၆-၁၁-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **( ၃၂ ) ရက်** | | |

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Ngwe Yi Palè Sugar Co., Ltd. (ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်) မှ သကြား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာကိုထားလွှာ တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Ngwe Yi Palè Sugar Co., Ltd.<br>(ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်) |
| | ကမကထပြုသူ | - ချောင်ဖင် (ခ) ဦးသိန်းမြင့် |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - သကြားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင် အမှတ်-၁၂၁၊ ၁၂၂၊ ၁၂၃၊ ၁၂၉၊ ၁၆၀၊ ၁၆၁၊ ၁၆၂၊ ၁၆၃၊ ကွင်းအမှတ်-၂၊ အင်းဝိုင်းရွာကွင်း၊ ဦးပိုင်အမှတ်-၁၅၄၊ ကွင်းပြင်ကွင်း၊ ကုန်းကြီးရွာမကျေးရွာအုပ်စု၊ နောင်ချိုမြို့နယ်၊ ကျောက်မဲခရိုင်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း) |
| ၃။ | မြေပိုင်ရှင် | - ချောင်ဖင် (ခ) ဦးသိန်းမြင့် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၄၉.၇၅၁ ဧက (၂၀၁,၃၃၁.၂၈၅ စတုရန်းမီတာ) |
| ၄။ | တည်ဆောက်မှုကာလ | - ၃ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၁၆၃,၂၃၆.၃၉၁ သန်း |
| | ပမာဏ | (အမေရိကန်ဒေါ်လာ ၈၀.၇၂၀သန်း အပါအဝင်) |
| | **ထည့်ဝင်သည့်အမျိုးအစား** | **ကျပ်/ သန်း** |
| | ငွေသား | ၁၀,၀၀၀.၀၀၀ |
| | စက်ပစ္စည်းနှင့် စက်ကိရိယာ (ပြည်ပ) | ၁၁၅၃၄၃.၉၀၀ (US$ ၈၀.၇၂၀ သန်း) |
| | မြေ | ၆၈၆.၉၀၀ |
| | အဆောက်အဦကုန်ကျစရိတ် | ၂၀,၃၃၄.၀၀၀ |
| | ပရိဘောဂ (ပြည်တွင်း) | ၁၆၁.၇၄၀ |
| | ကနဦးကုန်ကြမ်း (၃လစာ) | ၁၆,၇၀၉.၈၅၀ |
| | **စုစုပေါင်း** | ၁၆၃,၂၃၆.၃၉၀ (US$ ၈၀.၇၂၀ သန်းအပါအဝင်) |
| ၆။ | ဝန်ထမ်းအင်အား | **- ၅၃၈ ဦး** |
| | ပြည်တွင်း | - ၅၀၃ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၅၀,၀၀၀ ဖြစ်ပါသည်။) |

| | | |
|---|---|---|
| | ပြည်ပ | -၃၅ ဦး (စက်ပစ္စည်း ဝယ်ယူသည့်ကုမ္ပဏီမှ စက်တပ်ဆင်ခြင်းနှင့် လေ့ကျင့်ရေးအတွက် ခေတ္တလာရောက်ခြင်းဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ် | -၁၀၀% ပြည်တွင်းရောင်း |
| ၈။ | နှစ်စဉ်ထုတ်လုပ်မှု (ပထမနှစ်) | **စဉ် ပစ္စည်းအမျိုးအစား အရေအတွက် (တန်) ရောင်းဈေးနှုန်း (ကျပ်/ တန်)**<br>၁။ Sugar ၁၃၇,၂၀၀ ၆၇၃,၆၄၀<br>၂။ Molasses ၅၆,၀၀၀ ၁၁၀,၂၃၂ |
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ကီလိုဝပ်နာရီ ၂၇.၃၃၆ သန်း (စက်ရုံအတွက် လိုအပ်သော လျှပ်စစ်ဓာတ်အားအတွက် ကြံကြိတ်ဖတ်ကို လောင်စာအဖြစ်အသုံးပြုပြီး တာဘိုင်နှစ်လုံးဖြင့် ၇၀ MW ထုတ်ယူ၍ အရံအဖြစ် Generator ထားရှိသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။) |
| ၉။ | အခြားတင်ပြချက် | - ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာနှင့် ရှယ်ယာရှင်တစ်ဦးဖြစ်သည့် ဦးသိန်းမြင့် အမည်ဖြင့် ဝယ်ယူထားသော မြေအရောင်းအဝယ်စာချုပ်များနှင့် လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုခွင့် လျှောက်ထားလွှာများ၊ မြေစာရင်းပုံစံ ၁၀၅၊ ပုံစံ ၇၊ ဦးသိန်းမြင့်အမည်ဖြင့် ဝယ်ယူထားသော မြေအားရင်းနှီးမြှုပ်နှံရန် ဒါရိုက်တာအဖွဲ့မှ သဘောတူကြောင်းဆုံးဖြတ်ထားသည့် ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်းနှင့် စက်ရုံတည်နေရာ၊ စက်ရုံ Layout Plan များ တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်အမည်ဖြင့် Myanmar Apex ဘဏ်တွင် ၁၅-၈-၂၀၁၈ရက်စွဲဖြင့် ကျပ် ၁,၀၀၀,၂၉၄,၆၁၁.၅၃ ရှိကြောင်းတင်ပြထားပါသည်။<br>- စက်ရုံတည်ဆောက်ရန်လိုအပ်သည့် မြေဧရိယာအနေအထား၊ စက်ရုံ Layout Plan၊ Waste Water Treatment Plan၊ ကုန်ကြမ်း ရရှိမှုအခြေအနေ နှင့် သကြားချက်လုပ်မှုနည်းစဉ်အဆင့်ဆင့် တို့ကို တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင် စိမ်းလန်းစိုပြေရေးအတွက် သစ်ပင်များစိုက်ပျိုးထားရှိမှုနှင့် စွန့်ပစ်ရေမှ ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်စေရေးအတွက် စီမံချက်များ၊ ဝန်ထမ်းများအတွက် |

| | | |
|---|---|---|
| | | လူမှုဖူလုံရေးနှင့် သက်သာချောင်ချိရေး အစီအမံများ၊ CSR ၂% ဆောင်ရွက်ထားရှိမည့် အစီအစဉ်နှင့် မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်တို့ကိုတင်ပြထားပါသည်။<br>- ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်၏ သကြားစက်ရုံ စီမံကိန်းအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာ (Environmental Impact Assessment) အတွက် Scoping Report ကို တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပြီး ISIC 1072 တွင်ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရှမ်းပြည်နယ်မြောက်ပိုင်း၊ နောင်ချိုမြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဖွံ့ဖြိုးတိုးတက်မှု ဇုန်(၂) တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |
| ၉။ | စိစစ်တင်ပြချက် | |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၃၃/ ၂၀၁၈ ( ၅၂၁ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Ngwe Yi Pale` Sugar Co., Ltd. (ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်) မှ သကြား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာကိုထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Ngwe Yi Pale` Sugar Co., Ltd. (ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်) မှ ဦးပိုင် အမှတ်-၁၂၁၊ ၁၂၂၊ ၁၂၃၊ ၁၂၉၊ ၁၆၀၊ ၁၆၁၊ ၁၆၂၊ ၁၆၃၊ ကွင်းအမှတ်-၂၊ အင်းဝိုင်းရွာကွင်း၊ ဦးပိုင်အမှတ်-၁၅၄၊ ကွင်းပြင်ကွင်း၊ ကုန်းကြီးရွာမ ကျေးရွာအုပ်စု၊ နောင်ချိုမြို့နယ်၊ ကျောက်မဲခရိုင်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း) ရှိ စုစုပေါင်း မြေဧရိယာ ၄၉.၇၅၀ ဧက (၂၀၁,၃၃၁.၂၈၅ စတုရန်းမီတာ)တွင် သကြားထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် Ngwe Yi Pale` Sugar Co., Ltd. (ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်) ၏ အုပ်ချုပ်မှုဒါရိုက်တာ နှင့် ရှယ်ယာရှင်တစ်ဦးဖြစ်သည့် ဦးသိန်းမြင့် အမည်ဖြင့် ဝယ်ယူထားသော မြေအရောင်းအဝယ်စာချုပ်များနှင့် လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုခွင့် လျှောက်ထားလွှာများ၊ မြေစာရင်းပုံစံ ၁၀၅၊ ပုံစံ ၇၊ ဦးသိန်းမြင့် အမည်ဖြင့် ဝယ်ယူထားသောမြေအား ရင်းနှီးမြှုပ်နှံရန် ဒါရိုက်တာအဖွဲ့မှ သဘောတူကြောင်း ဆုံးဖြတ်ထားသည့် ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း၊ စက်ရုံတည်နေရာနှင့် စက်ရုံ Layout Plan များ တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၃ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၁၆၃,၂၃၆.၃၉၁ သန်း (အမေရိကန်ဒေါ်လာ ၈၀.၇၂၀ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

**ကျပ်/သန်း**

| | |
|---|---|
| ငွေသား | ၁၀,၀၀၀.၀၀၀ |
| စက်ပစ္စည်းနှင့် စက်ကိရိယာ (ပြည်ပ) | ၁၁၅၃၄၃.၉၀၀ (US$ ၈၀.၇၂၀ သန်း) |
| မြေ | ၆၈၆.၉၀၀ |
| အဆောက်အဦကုန်ကျစရိတ် | ၂၀,၃၃၄.၀၀၀ |
| ပရိဘောဂ (ပြည်တွင်း) | ၁၆၁.၇၄၀ |
| ကနဦးကုန်ကြမ်း (၃လစာ) | ၁၆,၇၀၉.၈၅၀ |
| **စုစုပေါင်း** | **၁၆၃,၂၃၆.၃၉၀** (US$ ၈၀.၇၂၀ သန်းအပါအဝင်) |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၅၃၈ ဦး ခန့်ထားမည်ဖြစ်ပြီး၊ ပြည်ပဝန်ထမ်း ၃၅ ဦးခန့်ထားမည်ဖြစ်သည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၅၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းများမှာ ပြည်ပမှ တင်သွင်းလာသည့် စက်ပစ္စည်းများ တပ်ဆင်ခြင်းနှင့် ပြည်တွင်းဝန်ထမ်းများအား လေ့ကျင့်သင်ကြားပေးရန်အတွက် ခေတ္တလာရောက်ခြင်းဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှာ သကြားနှင့် တင်လဲရည် ထုတ်လုပ်ပြီး ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများအား အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဉ်** | **ပစ္စည်းအမျိုးအစား** | **အရေအတွက် (တန်)** | **ရောင်းဈေးနှုန်း (ကျပ်/ တန်)** |
|---|---|---|---|
| (က) | Sugar | ၁၃၇,၂၀၀ | ၆၇၃,၆၄၀ |
| (ခ) | Molasses | ၅၆,၀၀၀ | ၁၁၀,၂၃၂ |

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ** မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည် ဖြစ်ကြောင်းသဘောထား ပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ရှမ်းပြည်နယ်အစိုးရအဖွဲ့** မှ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ခ**

၈။ ငွေရေးကြေးရေးအထောက်အထားအဖြစ် ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်အမည်ဖြင့် Myanmar Apex ဘဏ်တွင် ၁၅-၈-၂၀၁၈ရက်စွဲဖြင့် ကျပ် ၁,၀၀၁,၂၉၄,၆၁၁.၅၃ ရှိကြောင်း တင်ပြထားပါသည်။

၉။ စက်ရုံ၌ အလုပ်သမားများအတွက် လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR အား အသားတင်အမြတ်ငွေ၏ ၂% ထားရှိဆောင်ရွက်မည့် အစီအစဉ်များ ကိုလည်း တင်ပြထားပါသည်။

၁၀။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၃/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ တွင်ပါဝင်ပြီး ISIC 1072 တွင်ပါဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၂)- ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသောဒေသတွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဃ) အဆိုပြုတင်ပြလာသည့် လုပ်ငန်းအမျိုးအစားနှင့် အလားတူလုပ်ငန်း( ၅ ) ခုအား ကော်မရှင် မှခွင့်ပြုခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Ngwe Yi Pale` Sugar Co., Ltd. (ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်) မှ သကြားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၆၇/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်မှ သကြားထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၃၃/ ၂၀၁၈(၄၉၂)

၁။ ရခိုင်နွန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်မှ ဦးပိုင်အမှတ်၊ ၁၂၁၊ ၁၂၂၊ ၁၂၃၊ ၁၂၉၊ ၁၆၀၊ ၁၆၁၊ ၁၆၂၊ ၁၆၃၊ ကွင်းအမှတ်- ၂၊ အင်းဝိုင်းရွာ၊ ဦးပိုင်အမှတ်-၁၅၄၊ ကွင်းအမှတ်- ကွင်းပြင်၊ ကုန်းကြီးရွာမကျေးရွာအုပ်စု၊ နောင်ချိုမြို့နယ်၊ ကျောက်မဲခရိုင်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း) ရှိစုစုပေါင်းမြေဧရိယာ ၄၉.၇၅ ဧက (၂,၀၁,၃၃၁.၂၈၅ စတုရန်းမီတာ) တွင် သကြားထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀)နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၃) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၂,၀၁,၃၃၁.၂၈၅ စတုရန်းမီတာ) ပေါ်တွင် (၁) ရက်လျှင် ကြံတန်ချိန် (၁၂၀၀၀) ကြိတ်ဝါးမည့် အမှတ် (၃) သကြားစက်ရုံအသစ် အပါအဝင် စက်ပိုင်းဆိုင်ရာဆက်စပ်အဆောက်အဦး (၂၁) လုံးတည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ (၁) နှစ်လျှင်သကြား (၁,၃၇,၂၀၀) တန်နှင့် တင်လဲရည် (၅၆,၀၀၀) တန်ထုတ်လုပ်ကာ ပြည်တွင်း၌ ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ EIA ရေးဆွဲ ဆောင်ရွက်ရန်အတွက် Myanmar Environment Sustainable Conservation – MESC) သို့လုပ်ငန်းအပ်နှံပြီးဖြစ်ကြောင်း စာချုပ်နှင့် ပတ်ဝန်း

ကျင် ထိခိုက်မှုဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်တို့နှင့်စပ်လျဉ်း၍ဆောင်ရွက်သွားမည့် အစီအစဉ် အကျဉ်းချုပ်အား ဖော်ပြပါရှိပါကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၃%) ကိုလူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေပြန်လည်သန့်စင်သည့်စနစ်ကိုလည်း တည်ဆောက် တပ်ဆင်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) ငွေရည်ပုလဲသကြား ကုမ္ပဏီလီမိတက်မှ သကြား ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများ တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရည်များနှင့် အကြွင်းအကျန် အနည်အဖတ်များကိုပြုပြင် သန့်စင်ခြင်းမရှိဘဲ စွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်မြေထု၊ ရေထုညစ်ညမ်းခြင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်အပူချိန်မြင့် တက်စေပြီး ကဇော်ဓါတ်ပေါက်၍ အနံ့ဆိုးများထွက်ရှိခြင်းကြောင့် စက်ရုံအနီးပတ်ဝန်းကျင်ရှိ လေထုညစ်ညမ်းခြင်း၊ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်မှ သကြားထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ

တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၃% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရှမ်းပြည်နယ်
ရုံးလက်ခံ

နောက်ဆက်တွဲ-ခ

ရုံးတံဆိပ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ ၁၄၄၁၉/ ၇ - ၂၁၆ / အစရ (ရှမ်း)
ရက် စွဲ ၊ ၂၀၁၈ခုနှစ်၊ နိုဝင်ဘာလ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက်တင်ပြခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက -၂/ အ-၀၃၃ /၂၀၁၈ (၄၉၁)

၁။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်မှ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ကုန်းကြီးရွာမကျေးရွာအုပ်စု၊ အင်းဝိုင်းရွာ၊ ကွင်းအမှတ်နှင့်အမည် (၂/အင်းဝိုင်းရွာကွင်း)နှင့်(ကွင်းပြင်၊ ကုန်းကြီးရွာမ)၊ ဦးပိုင်အမှတ်၊ (၁၂၁၊ ၁၂၂၊ ၁၂၃၊ ၁၂၉၊ ၁၆၀၊ ၁၆၁၊ ၁၆၂၊ ၁၆၃)နှင့်(၁၅၄)၊ စုစုပေါင်းမြေဧရိယာ (၄၉.၇၅)ဧက (၂၀၁၃၃၁.၂၈၅ စတုရန်းမီတာ)တွင် သကြားထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်မှ အဆိုပြုတင်ပြလာခြင်းအပေါ် အောက်ပါအချက်များနှင့် ပတ်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် သကြားထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်မှုရှိ/မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါမြေနေရာ၌ အဆိုပြုလုပ်ငန်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ။

(ဃ) အဆိုပြုလုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာ ဟုတ်/ မဟုတ်။

(င) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သုံးသပ်အကြံပြုချက်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ကျောက်မဲခရိုင်စီမံခန့်ခွဲမှုကော်မတီမှ အောက်ပါအတိုင်း စိစစ်တင်ပြလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် သကြားထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်နိုင်မှုရှိ/မရှိနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ငွေရည်ပုလဲသကြား

ကုမ္ပဏီလီမိတက်မှ တင်ပြထားသော ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်မြေနေရာသည် နောင်ချိုမြို့နယ်၏ အလယ်ဗဟိုအချက်အချာကျသည့်နေရာတွင် တည်ရှိခြင်း၊ တစ်မြို့နယ်လုံး၏ ကြံစိုက်ဧရိယာဧက(၆၀၀၀၀)ကျော်ရှိခြင်းတို့ကြောင့် သကြား ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်နိုင်ပါကြောင်း၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/ မဖြစ်နှင့်ပတ်သက်၍ ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်မှ ဒေသခံအလုပ်သမား(၆၀၀၀)ကျော် အလုပ်အကိုင်အခွင့်အလမ်းပေးနိုင်ခြင်း၊ ကျေးရွာ အချို့အား လျှပ်စစ်ဓါတ်အားဖြန့်ဖြူးပေးခြင်း၊ လမ်းများ ဖောက်လုပ်နိုင်ခြင်း ၊ တံတားဆောက်လုပ်ခြင်းများ၊ အခြား ရပ်ရွာ အကျိုးပြုလုပ်ငန်းများဖြစ်သည့် စာသင်ကျောင်း၊ ဘုန်းတော်ကြီးကျောင်းများ လှူဒါန်းဆောက်လုပ်ခြင်းများ ဆောင်ရွက်နေကြောင်း တွေ့ရှိရသဖြင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊

(ဂ) ဖော်ပြပါမြေနေရာသည် အဆိုပြုလုပ်ငန်း လုပ်ကိုင်ခြင်းအပေါ် တင်ပြပါမြေနေရာနှင့် တစ်ဆက်တည်းတွင်ဧရိယာ(၁၂၅.၀၀)ဧက ရှိမြေပေါ်တွင် တစ်ရက်လျှင် တန်(၄၀၀၀) ကျော် စက်ရုံတည်ရှိပြီး ယခုအခါ စက်ရုံနှင့် တစ်ဆက်တည်းတွင် လုပ်ငန်းဆောင်ရွက် နိုင်မှုရှိခြင်း၊ မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်ခြင်း၊ ဒေသခံများအနေဖြင့် လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ သဘောတူလက်ခံနိုင်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းများ ဆောင်ရွက်မည် ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ချို မြို့နယ်၏ အလယ်ဗဟိုအချက်အခြာကျသည့် နေရာတွင် တည်ရှိခြင်း၊ မြို့နယ် အတွင်းရှိ ကျေးရွာအုပ်စုများနှင့် ရာသီမရွေးဆက်သွယ်သွားလာနိုင်ခြင်း၊ ဒေသခံ တောင်သူများမှလည်း ကန့်ကွက်မှုတစ်စုံတစ်ရာမရှိခြင်း၊ တင်ပြပါ မြေနေရာ နှင့် တစ်ဆက်တည်းတွင် ဧရိယာ(၁၂၅)ဧက မြေပေါ်တွင် တိုးချဲ့ဆောက်လုပ်ခြင်း တို့ကြောင့် လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ကုန်းကြီးရွာမကျေးရွာအုပ်စု၊ အင်းဝိုင်းရွာ၊ ကွင်းအမှတ်နှင့်အမည် (၂/အင်းဝိုင်းရွာကွင်း)နှင့်(ကွင်းပြင်၊ ကုန်းကြီးရွာမ)၊ ဦးပိုင်အမှတ်၊ (၁၂၁၊ ၁၂၂၊ ၁၂၃၊ ၁၂၉၊ ၁၆၀၊ ၁၆၁၊ ၁၆၂၊ ၁၆၃)နှင့်(၁၅၄)၊ စုစုပေါင်းမြေဧရိယာ (၄၉.၇၅)ဧက (၂၀၁၃၃၁.၂၈၅ စတုရန်းမီတာ)တွင် သကြား ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်မှ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ

ဖြစ်ခြင်း၊ ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းတို့ကြောင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်( ကခ )
( စိုးညွန့်လွင်၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီး)

မိတ္တူကို

ငွေရည်ပုလဲသကြားကုမ္ပဏီလီမိတက်

ရုံးလက်ခံ

မျှောစာတွဲ